shall be counted in the quorum for such meeting and subject to there being a requisite quorum under Clause 25 at all times during such meeting, all resolutions agreed by the Shareholders in such meeting shall be deemed to be as effective as a resolution passed at a meeting in person of the Shareholders duly convened and held. A Shareholders Meeting conducted by communications equipment as aforesaid is deemed to be held at the place agreed upon by the Shareholders attending the meeting, provided that at least one of the Shareholders present at the meeting was at that place for the duration of the meeting.

## DIVIDENDS

28. Dividends shall be declared, subject to the resolution by a Shareholders Meeting from the profit (after taxation, minority interest and extraordinary items) of the Company as shown by the Company's financial statements for the relevant fiscal year and available for distribution in accordance with the applicable laws in proportion with the shareholding ratio at that time of each member, provided always that the declared amount shall not exceed the amount recommended by the Board Meeting.

## OFFICE STAFF

29. The Company shall maintain an office establishment and may appoint a qualified person as general manager and other qualified persons as office staffs. The remunerations and allowances such as salaries, traveling allowance and other expenditures incidental to the business shall be determined by the Board and approved by the Shareholders Meeting. The general manager shall be responsible for the efficient operation of the office in every respect and shall be held accountable at all times to the Managing Director.

## ACCOUNTS

30. The Directors shall cause to be kept proper books of account with respect to: -
    (1) all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;
    (2) all sales and purchases of goods by the Company;
    (3) all assets and liabilities of the Company.

31. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

32. The auditor of the Company (the "**Auditor**") shall be a Certified Public Accountant (CPA) (individual or auditing firm) registered in Myanmar, and shall be appointed at a Shareholders Meeting as nominated by HISG. Any change or replacement, of the Auditor, who shall not be changed or replaced without due cause, from time to time shall be decided by HISG and approved at a Shareholders Meeting.

## NOTICE

33. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

34. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sign every instrument to which the Seal is affixed.

## INDEMNITY

35. Subject to the provisions of Section 86(C) of the Myanmar Companies Act and the existing laws, every Director, Auditor, secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING-UP

36. Subject to the provisions contained in the Myanmar Companies Act and the statutory modification, thereupon, the Company may be wound up voluntarily by the resolution of General Meeting.

❖ ❖ ❖ ❖

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the capital of the Company set opposite our respective names.

| Sr. No | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of shares taken | Signatures |
|---|---|---|---|---|
| 1. | Hitachi Industrial Equipment Singapore Pte. Ltd.<br><br>Address: 7 Tampines Grande, #08-01, Hitachi Square, Singapore<br><br>Represented by Yutaka Araya<br>Address : 3-1-30, Nishioizumi, Nerima-ku, Tokyo, 178-0065, Japan | Incorporated in Singapore<br><br>TK3725833 | 30 | |
| 2. | SOE Electric & Machinery Co., Ltd.<br><br>Address: No. 1 Aung Chan Thar Housing Estate, East Shwegondine Road, Bahan Township, Yangon, Myanmar<br><br>Represented by U Kyaw Min Htun<br><br>Address: No 58, Phoe Sein Street, Natmaut Quarter, Tamwe Township, Yangon, Myanmar. | Incorporated in Myanmar<br><br>12/Ba Ha Na (N) 024524 | 70 | |

Yangon. Dated the day of 2015

*It is hereby certified that the persons mentioned above put their signatures in my presence.*

## မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ

## အစုရှယ်ရာများဖြင့် ပုဂ္ဂလိကကုမ္ပဏီလီမိတက်

## ဟီတာချီစိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီလီမိတက်

## ၏

## သင်းဖွဲ့မှတ်တမ်း

၁။ ကုမ္ပဏီ၏အမည်သည် **ဟီတာချီစိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီလီမိတက်** ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏မှတ်ပုံတင်ရုံးခန်းသည် ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းတည်ရှိရပါမည်။

၃။ ကုမ္ပဏီတည်ထောင်ရခြင်း၏ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာတွင်ရှိပါသည်။

၄။ အဖွဲ့ဝင်များ၏တာဝန်ရှိခြင်းများကို ကန့်သတ်ထားပါသည်။

၅။ ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်းသည် အမေရိကန်ဒေါ်လာ ၂၂၅,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ နှစ်ရာနှင့်နှစ်ဆယ့်ငါးသန်းတိတိ) ဖြစ်ပြီး အစုရှယ်ရာ ၅၀၀ (ငါးရာ) အတွင်း အမေရိကန်ဒေါ်လာ ၄၅၀,၀၀၀ (အမေရိကန်ဒေါ်လာလေးရာနှင့်ငါးသောင်းတိတိ) စီခွဲထားပြီး၊ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ်အစည်းအဝေးတွင် အခါအားလျော်စွာ မတည်ငွေ ကဲ့သို့သော ဥပဒေစည်းမျဉ်းစည်းကမ်းများ သတ်မှတ်ချက်များကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့်အညီ တိုးမြှင့်ခြင်း၊ လျှော့ချခြင်းနှင့် ပြင်ဆင်နိုင်ခြင်း အခွင့်အာဏာရှိစေရမည်။

## ဟီတာချီစိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီလီမိတက်

## ၏

## ရည်ရွယ်မှုစာရင်း သို့မဟုတ် လုပ်ငန်းလုပ်ဆောင်မှု

ဟီတာချီစိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီလီမိတက်တို့ရည်မှန်းချက်များမှာ အောက်ပါအတိုင်းဖြစ်သည် –

(၁) ထုတ်လုပ်ခြင်း၊ တပ်ဆင်ခြင်း၊ ရောင်းချခြင်း၊ တင်ပို့ခြင်း၊ ထိန်းသိမ်းပြုပြင်ခြင်းနှင့် ငှားရမ်းခြင်း အနေဖြင့်

က။ စက်မှုဆိုင်ရာပစ္စည်းကိရိယာများ၊ လျှပ်စစ်ဓာတ်အားဖို့ပြောင်းစက်များအပါအဝင် (စွမ်းအင်ဓာတ်အားဖို့ပြောင်းစက်နှင့်ဓာတ်အားဖြန့်ဖြူးစက်) နှင့်

ခ။ ခလုတ်ကိယာများ (စုပေါင်းထားသော "စက်မှုဆိုင်ရာပစ္စည်းကိရိယာများ") ဖြစ်သည်။

(၂) ကုမ္ပဏီအနေဖြင့် စနစ်ကျမှုပေါ်အခြေခံလျှက် တည်ထောင်လုပ်ကိုင်ခဲ့ရာတွင် စက်မှုဆိုင်ရာပစ္စည်းကိရိယာများနှင့် စက်မှုအတတ်ပညာဝန်ဆောင်မှုများဖြင့်အထောက်အကူပြုတိုင်ပင်ခြင်းပြုရပါမည်။

(၃) အဆိုပါအထက်ဖော်ပြခဲ့သည့်လုပ်ဆောင်မှုများအတွက် စက်ယန္တရားများ၊ အရံပစ္စည်းများ၊ ကုန်ကြမ်းများနှင့် အခြားလိုအပ်သည်များကိုတင်သွင်းရန်ဖြစ်ပြီး အပြီးသတ်ထုတ်လုပ်မှုနှင့် တစ်စိတ်တစ်ဒေသပြီးစီးသည့်ထုတ်လုပ်မှုများကို ဒေသတွင်းနှင့် ပြည်ပသို့ လက်လီ လက်ကား ရောင်းချရန်ဖြစ်သည်။

(၄) တည်ဆောက်ရေးလုပ်ငန်းများကိုဆက်လက်လုပ်ဆောင်လျှက် အထက်ဖော်ပြပါ လုပ်ဆောင်မှုများအတွက် လိုအပ်သည့်စက်ယန္တရား၊ အရံပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို တင်သွင်းရန်ဖြစ်သည်။

(၅) ကုမ္ပဏီ၏လုပ်ငန်းအကျိုးအမြတ်အတွက် တစ်ဦးဦးသောပုဂ္ဂိုလ်များ၊ ရှံပုံငွေ၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ဘဏ္ဍာရေးအဖွဲ့အစည်းတို့မှငွေချေးရန်မှာ ၎င်းကုမ္ပဏီဆင်ခြင်မှုနှင့်သင့်တော်သည့်နည်းလမ်းအတွင်း ဖြစ်ရပါမည်။ကုမ္ပဏီသည် အထက်ပါရည်မှန်းချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြား မည်သည့်အရပ်ဒေသတွင်ဖြစ်စေ အခါအားလျော်စွာတည်ရှိနေသောတရားဥပဒေများ၊ အမိန့် ကြော်ငြာစာများ၊ အမိန့်များနှင့် အညီခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားသောလုပ်ဆောင်မှုများ မပြုလုပ်ရမည့်အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းအမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် ဥပဒေများအရ ပြဋ္ဌာန်းထားနိုင်သောအဆိုပြုမှုများ သို့မဟုတ် ခွင့်ပြုချက်များကိုသာလျှင် ဤအချိန်အတွင်းဆောင်ရွက်စေရမည်။

ကျွန်ုပ်တို့၏အချို့သောပုဂ္ဂိုလ်များ အမည်၊ နိုင်ငံသား၊ နေရပ်လိပ်စာများနှင့် ထည့်ဝင်ငွေများအားအောက်တွင်ဖော်ပြထားပြီး ကျွန်ုပ်တို့အသီးသီးသည် ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အတွက် ကျွန်ုပ်တို့အမည်များနှင့်ယှဉ်တွဲဖော်ပြပါအတိုင်း အစုရှယ်ယာများအားကုမ္ပဏီ၏မတည်ရင်းနှီးငွေအဖြစ်ထည့်ဝင်ရယူကြရန် အလေးအနက်သဘောတူညီကြပါသည်။

| စဉ် | အစုရှယ်ယာထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသားမှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဟီတာချီစက်မှုလုပ်ငန်းပစ္စည်းကိရိယာ<br>စင်္ကာပူ Pte.Ltd<br>နေရပ်။ 7 Tampines Grande,<br># 08 -01, Hitachi Quare,<br>စင်္ကာပူနိုင်ငံ။<br>Represented by Yutaka Araya<br>Address : 3-1-30, Nishioizumi,<br>Nerima-ku, Tokyo, 178-0065, Japan | စင်္ကာပူတွင် တရားဝင်<br>ပေါင်းစည်းထားသည်<br><br><br><br>TK 3725833 | ၃၀ | |
| ၂။ | စိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီ<br>လီမိတက်<br>အမှတ်(၁)၊ အောင်ချမ်းသာ<br>အိမ်ယာ၊ အရှေ့ရွှေဂုံတိုင်လမ်း၊<br>ဗဟန်းမြို့နယ်၊ ရန်ကုန်၊ မြန်မာနိုင်ငံ။<br>ဦးကျော်မင်းထွန်းမှ ကိုယ်စားပြုသည်။<br>အမှတ်(၅၈)၊ ဖိုးစိန်လမ်း၊<br>နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်၊<br>ရန်ကုန်၊ မြန်မာနိုင်ငံ။ | မြန်မာနိုင်ငံတွင် တရားဝင်<br>ပေါင်းစည်းထားသည်<br><br><br><br>၁၂/ဗဟန(နိုင်)၀၂၄၅၂၄ | ၇၀ | |

ရန်ကုန်မြို့။ ၂၀၁၅ ခုနှစ်၊ လ ( ) ရက်။

ကျွန်ုပ်ရှေ့တွင် အထက်ပါပုဂ္ဂိုလ်များမှ သူတို့၏လက်မှတ်များရေးထိုးခဲ့သည်မှာ မှန်ကန်ပါသည်။

# မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ
# ရှယ်ယာများဖြင့်ပုဂ္ဂလိကကုမ္ပဏီလီမိတက်
# ဟီတာချီစိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီလီမိတက်

## ၏

## သင်းဖွဲ့မှတ်တမ်း

ဤအရာသည် သင်းဖွဲ့စည်းမျဉ်းများဖြစ်သည်။ (''စည်းမျဉ်း'')

"**HISG**" ၏အဓိပ္ပါယ်သည် စင်္ကာပူနိုင်ငံတည်ဆဲဥပဒေအောက်ရှိ စုစည်းထားသည့်ကုမ္ပဏီတစ်ခုဖြစ်၍ စင်္ကာပူနိုင်ငံရှိ Hitachi Suare, # 08-01, Tampines Grande 7 တွင်နေရပ်မှတ်ပုံထားသောဟီတာချီ စက်မှုလုပ်ငန်းဆိုင်ရာပစ္စည်းကိရိယာစင်္ကာပူပီတီအီးလီမိတက် နှင့်

"**SEM**" ၏အဓိပ္ပါယ်သည် မြန်မာနိုင်ငံတည်ဆဲဥပဒေအောက်ရှိ စုစည်းထားသည့်ကုမ္ပဏီတစ်ခုဖြစ်၍ မြန်မာနိုင်ငံ၊ ရန်ကုန်မြို့၊ ဗဟန်းမြို့နယ်၊ အရှေ့ရွှေဂုံတိုင် လမ်း၊ အောင်ချမ်းသာအိမ်ရာ၊ အမှတ် (၁) တွင်နေရပ်မှတ်ပုံတင်ထားသော စိုးလျှပ်စစ်နှင့်စက်ယန္တရားကုမ္ပဏီလီမိတက်ဖြစ်ပါသည်။

(''**အစုရှယ်ရာဝင်**'' နှင့် စုစည်းထားခြင်းအား ''**အစုရှယ်ရာဝင်များ**'' ဟု အသီးသီးရည်ညွှန်းသွားပါမည်။)

၁။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေတွင်အစဦးစာရင်းရှိဇယား ''အေ'' ၌စည်းမျဉ်းများပါရှိပြီး အောက်ဖော်ပြပါစည်းမျဉ်းများနှင့်မဆီလျော်သည့်စည်းမျဉ်းများတွက်ကုမ္ပဏီလုံခြုံမှုဘေးကင်းမှုကို အသုံးပြုနိုင်မည်ဖြစ်သည်။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၁၇ (၂) တွင်ဖော်ပြပါရှိသည့် မလိုက်နာမနေရစည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်အမြဲသက်ဆိုင်သည်ဟုမှတ်ယူရပါမည်။

## ပုဂ္ဂလိကကုမ္ပဏီ

၂။ ကုမ္ပဏီသည် ပုဂ္ဂလိကကုမ္ပဏီနှင့် အောက်ဖော်ပြပါတင်ကြိုစီမံမှုများအရ သက်ရောက်မှုရှိမည် ဖြစ်ပါသည် –

(က) ကုမ္ပဏီမှခန့်အပ်သည့်ဝန်ထမ်းများမှအပ ကုမ္ပဏီအစုရှယ်ယာအဖွဲ့ဝင်များ၏ဦးရေကို ငါးဆယ်ထိကန့်သတ်ထားရန်ဖြစ်ပါသည်။

(ခ) ကုမ္ပဏီ၏ရင်းနှီးမြှုပ်နှံငွေ သို့မဟုတ် ချေးငွေလက်မှတ် သို့မဟုတ် တစ်စုံတစ်ရာအစုရှယ်ရာ အတွက် အများပြည်သူအား ဖိတ်ခေါ်ခြင်းတစ်စုံတစ်ရာမပြုလုပ်ရန် တားမြစ်ထားပါသည်။

## မတည်ရင်းနှီးငွေနှင့်အစုရှယ်ရာများ

၃။ ကုမ္ပဏီ၏သတ်မှတ်မတည်ငွေရင်းသည် အမေရိကန်ဒေါ်လာ ၂၂၅,၀၀၀,၀၀၀ (အမေရိကန်ဒေါ်လာ နှစ်ရာနှင့်နှစ်ဆယ့်ငါးသန်းတိတိ) ဖြစ်ပြီး အစုရှယ်ရာ ၅၀၀ (ငါးရာ) အတွင်း အမေရိကန်ဒေါ်လာ ၄၅၀,၀၀၀ (အမေရိကန်ဒေါ်လာလေးရာနှင့်ငါးသောင်းတိတိ) စီခွဲထားပါပြီး၊ ပြဋ္ဌာန်းချက်များနှင့်အညီ

အထွေထွေသင်းလုံးကျွတ်အစည်းအဝေး (**အစုရှယ်ရာဝင်များအစည်းအဝေး**) တွင် အခါအားလျော်စွာ မတည်ငွေ ကဲ့သို့သော ဥပဒေစည်းမျဉ်းစည်းကမ်းများ သတ်မှတ်ချက်များကို ကုမ္ပဏီ၏စည်းမျဉ်းများ နှင့်အညီ တိုးမြှင့်ခြင်း၊ လျှော့ချခြင်းနှင့် ပြင်ဆင်နိုင်ခြင်း အခွင့်အာဏာရှိစေရမည်။

၄။ အစုရှယ်ယာများသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ၏တင်ကြိုစီမံချက်ကိစ္စရပ်များသည် ကုမ္ပဏီဒါရိုက်တာများ (**ဒါရိုက်တာများ**) ၏ကြီးကြပ်ကွပ်ကဲမှုအောက်တွင်ရှိရမည်ဖြစ်ပြီး ၎င်းဒါရိုက်တာများသည် သင့်လျော်သည့်ပုဂ္ဂိုလ်များအား တစ်စုံတစ်ရာသောသတ်မှတ်မှုအခြေအနေတွင် အစုရှယ်ရာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကိုဆောင်ရွက်နိုင်ပါသည်။

၅။ အုပ်ချုပ်မှုမန်နေဂျာ (**အုပ်ချုပ်မှုမန်နေဂျာ**) သို့မဟုတ် ဒါရိုက်တာအဖွဲ့ သို့မဟုတ် ဒါရိုက်တာအဖွဲ့မှ အသိအမှတ်ပြုထားသည့် ပုဂ္ဂိုလ်အချို့မှ အစုရှယ်ရာလက်မှတ်များအား လက်မှတ်ရေးထိုးပြီး ကုမ္ပဏီစည်းတံဆိပ်ရိုက်နှိပ် ထုတ်ပေးရမည်။ အစုရှယ်ရာလက်မှတ်ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခပေး၍အသစ်ပြုလုပ်ခြင်း၊ ဒါရိုက်တာများမှ သင့်လျော်သည်ဟု ယူဆလျှက်အခြားသောသက်သေခံအထောက်အထားတစ်စုံတစ်ရာကိုတင်ပြစေခြင်းတို့ဖြင့် ထုတ်ပေးနိုင်ပါသည်။ ဒါရိုက်တာများမှ ကွယ်လွန်သွားသည့်အစုရှယ်ရာဝင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို အသိအမှတ်ပြုရမည်ဖြစ်သည်။

၆။ အစုရှယ်ရာဝင်များမှ ၎င်းတို့အစုရှယ်ရာများအတွက်မပေးသွင်းရသေးသောငွေများကို ဒါရိုက်တာများမှ အခါအားလျော်စွာတောင်းဆိုနိုင်ပါသည်။ အစုရှင်အားလုံးမှလည်း ၎င်းတို့ထံတောင်းဆိုသည့်အခါတိုင်း ဒါရိုက်တာများသတ်မှတ်သည့်ပုဂ္ဂိုလ်များထံ သတ်မှတ်ချိန်၊ သတ်မှတ်နေရာတို့တွင်ပေးသွင်းရန် တာဝန်ရှိပြီး ဆင့်ခေါ်မှုတစ်ကြိမ်အတွက် အရစ်ကျပေးသွင်းစေခြင်း သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများမှ သတ်မှတ်နိုင်ပါသည်။

## ဒါရိုက်တာများ

၇။ အစုရှယ်ရာဝင်များအကြားသဘောတူညီထားသည့်တစ်နည်းတစ်လမ်းမှလွဲ၍ အဖွဲ့အား ဒါရိုက်တာများ (၇) ဦးကဖွဲ့စည်းရမည်ဖြစ်သည်။ **HISG** သည် ဒါရိုက်တာများ (**HISG** ဒါရိုက်တာများ) (၄) ဦးကိုခန့်ထားရန်နှင့် **SEM** သည် ဒါရိုက်တာများ (**SEM** ဒါရိုက်တာများ) (၃) ဦးကိုခန့်ထားရပါမည်။

အစဦးဆုံးဒါရိုက်တာများ ဖြစ်ရမည်မှာ –

(၁) ဦးစိုးတင့်
(၂) ဦးကျော်မင်းထွန်း
(၃) ဒေါ်မျိုးမျိုးခိုင်
(၄) Mr Katsutoshi Inagaki
(၅) Mr Takeshi Miyamoto
(၆) Mr Takahisa Minegishi
(၇) Mr Yutaka Niikura

ဒါရိုက်တာများသည် ၎င်းတို့ရုံးခန်းတွင် (၃) နှစ်ဆောင်ရွက်ရမည်ဖြစ်ပြီး ပြန်လည်ခန့်အပ်နိုင်ပါသည်။

၈။ အဖွဲ့သည် အစုရှယ်ယာဝင်များအစည်းအဝေးတွင် အစုရှယ်ယာဝင်များမှသဘောကျမှုရရှိသော HISG ဒါရိုက်တာများအနက်မှ အုပ်ချုပ်မှု ဒါရိုက်တာ ၁ (တစ်) ဦးကိုခန့်ထားရန်ဖြစ်သည်။ အုပ်ချုပ်မှု ဒါရိုက်တာသည် နေ့စဉ်နေ့တိုင်း မန်နေဂျာသို့အုပ်ချုပ်မှုဆိုင်ရာပုဂ္ဂိုလ်ရေးအနေဖြင့် ကုမ္ပဏီ၏ လုပ်ဆောင်မှုများအတွက်စီမံအုပ်ချုပ်မှုပေါ်တွင်ကြီးကြပ်ရန်အတွက်တာဝန်ရှိမည်ဖြစ်ပြီး အဖွဲ့အနေဖြင့် တစ်လျှောက်လုံး ကုမ္ပဏီ၏အတွင်းကျသည့်မူဝါဒနှင့် အခြားကိစ္စရပ်များကိုအတည်ပြုခြင်းကဲ့သို့ သတ်မှတ်ထားရပါမည်။

၉။ အဖွဲ့သည် SEM အနေဖြင့်အသိအမှတ်ပြုထားသည့် ''ဥက္ကဋ္ဌ'' နှင့် ''ဒုတိယဥက္ကဋ္ဌ'' တို့အား ခန့်အပ်နိုင်ပြီး ''ဥက္ကဋ္ဌ'' နှင့် ''ဒုတိယဥက္ကဋ္ဌ'' တို့၏တာဝန်နှင့်ဝတ္တရားများမှာ အခါအားလျော်စွာ အဖွဲ့မှသတ်မှတ်ပေးရန် (သံသယကိုရှောင်ရှားရန်အတွက် ''ဥက္ကဋ္ဌ'' နှင့် ''ဒုတိယဥက္ကဋ္ဌ''တို့သည် အဖွဲ့အစည်းအဝေးများတွင် ဥက္ကဋ္ဌအနေဖြင့်တာဝန်မယူရန် (စာပိုဒ် ၁၂ သို့မဟုတ် အစုရှယ်ယာဝင်များ အစည်းအဝေးတွင်အနက်ဖွင့်ဆိုပြီး) ဖြစ်သည်။ ''ဥက္ကဋ္ဌ'' သို့မဟုတ် ''ဒုတိယ ဥက္ကဋ္ဌ'' သည် တစ်စုံတစ်ရာအကြောင်းပြချက်မည်သို့ပင်ဖြစ်စေ အချိန်မရွေးဘဲ ရုံးတာဝန်မှရပ်ဆိုင်းနိုင်ပြီး ဒါရိုက်တာများသည် ကုမ္ပဏီပုံစံ၏စီမံခန့်ခွဲတည်ဆောက်မှုပုံသဏ္ဍာန်ကိုပြန်လည်ဖွဲ့စည်းရန် တိုင်ပင် ဆွေးနွေးရမည်ဖြစ်ပြီး ရှိနေသည့် ''ဥက္ကဋ္ဌ'' နှင့် ''ဒုတိယဥက္ကဋ္ဌ'' နေရာများအတွက် အဖွဲ့မှ စီမံခန့်ခွဲတည်ဆောက်မှုပုံသဏ္ဍာန်သစ်ဖွဲ့စည်းခြင်းကို သတ်မှတ်ဆုံးဖြတ်ရမည်ဖြစ်ပါသည်။

၁၀။ မည်သို့ပင်ဖြစ်စေကာမူ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေမှ အပိုဒ်ခွဲ (၈၅) ၏ကြိုတင်စီမံမှုသည် ကုမ္ပဏီအတွင်း လိုအပ်သောအစုရှယ်ယာများကိုင်ဆောင်ထားသူမှ သူ၏အမည် သို့မဟုတ် သူမအမည်သည် ဒါရိုက်တာမဖြစ်ရပါ။

၁၁။ အဖွဲ့သည် အစုရှယ်ယာများအား တစ်စုံတစ်ရာ အဆိုပြုလွှဲပြောင်းရန် တစ်စုံတစ်ခုသော အကြောင်းပြလွှဲအပ်ခြင်းမရှိဘဲငြင်းဆိုမှုကိုတစ်ဦးတည်း ဆုံးဖြတ်ပိုင်ခွင့်အာဏာထိန်းချုပ်နိုင်မှုလုံးလုံး ပြုလုပ်နိုင်ပါသည်။

## ဒါရိုက်တာများ၏ဆောင်ရွက်ချက်များ

၁၂။ အဖွဲ့ (''**အဖွဲ့အစည်းအဝေး**'') သာမန်အစည်းအဝေးသည် အနည်းဆုံးအမြဲတမ်းတစ်နှစ်တွင် ကျင်းပရန်နှင့် ဒါရိုက်တာများတစ်ဦးတစ်ယောက်သည် အချိန်တစ်ခုခုတွင် ဖြည့်စွက်သည့်သာမန် အစည်းအဝေးအား ခေါ်ယူနိုင်ပါသည်။

၁၃။ အားလုံးသောအဖွဲ့အစည်းအဝေးများသည် ယေဘုယျအားဖြင့် ကုမ္ပဏီ၏မှတ်ပုံတင်ရုံးတွင် ကျင်းပရန် ဖြစ်ပြီး အလားတူအခြားသောပြင်ပနေရာများ သို့မဟုတ် အဖွဲ့ဆုံးဖြတ်သည့်မြန်မာနိုင်ငံပြင်ပတို့တွင် ကျင်းပနိုင်ပါသည်။

၁၄။ အဖွဲ့အစည်းအဝေးအားအနည်းဆုံး ၂ (နှစ်) ပတ်ကြိုတင်အကြောင်းကြားစာပေးရန်ဖြစ်ပြီး ဒါရိုက်တာများအားလုံး (ဒါရိုက်တာများအားလုံးမှလွဲ၍ အကြောင်းကြားစာတစ်စုံတစ်ရာမရှိဘဲ သို့မဟုတ် တိုတောင်းသည့်အကြောင်း ကြားစာဖြင့်အစည်းအဝေးခေါ်ယူခြင်းကို စာရေးသားပေးပို့နိုင်ပါသည်)

အကြောင်းကြားစာကို လက်ခံနိုင်ခွင့်ရှိပါသည်။

(၁) အစည်းအဝေးတွင် တင်ဆက်ရန် အကြောင်းအရာများအသေးစိတ်အားဆီလျော်စွာ သတ်မှတ်သည့်ဆောင်ရွက်ရန်အစီအစဉ် နှင့်

(၂) အဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်အားမိတ္တူကူးထားသည့် တစ်စုံတစ်ရာစာရွက်များ ဖြစ်သည်။

၁၅။ အဖွဲ့အည်းအဝေးအတွက်တက်ရောက်ရမည့်ဦးရေမှာ ဒါရိုက်တာများ ၄ (လေး) ဦးရှိရမည်ဖြစ်ပြီး အနည်းဆုံး HISG မှဒါရိုက်တာ ၁ (တစ်) ဦးနှင့် SEM မှဒါရိုက်တာ ၁ (တစ်) ဦးပါဝင်ရန်ဖြစ်သည်။ အကယ်၍ တက်ရောက်ရမည့်ဦးရေသည် တစ်စုံတစ်ခုသောအဖွဲ့အစည်းအဝေးတွင်မပြည့်စုံပါက ထိုအစည်းအဝေးသည် အစုရှယ်ရာဝင်များအကြားသဘောတူညီထားသည့်နည်းလမ်းမှလွဲ၍ အောက်ဖော်ပြပါ ရက်သတ္တပတ်၌ တူညီသောနေရာနှင့်အချိန်သို့ရွှေ့ပြောင်းရန်ဖြစ်သည်။ ရက်ရွှေ့ ပြောင်းထားသည့်အစည်းအဝေးသို့တက်ရောက်ရန်ဦးရေမှာ ဒါရိုက်တာ ၄ (လေး) ဦးရှိရမည်ဖြစ်သည်။

၁၆။ အစည်းအဝေးမှမဲဆန္ဒပေး၍ဆုံးဖြတ်ထားမှုတစ်ခုသည် အဖွဲ့အစည်းအဝေး၌ တက်ရောက်သည့် ဒါရိုက်တာများအနေဖြင့်ဆန္ဒမဲပေးခြင်း၏ ရိုးရိုးအများစုမှဆုံးဖြတ်ရန်ဖြစ်ပါသည်။ ဒါရိုက်တာအသီးသီး သည် ဆန္ဒမဲ ၁ (တစ်) ခုကိုပေးခွင့်ရရှိမည်ဖြစ်သည်။

၁၇။ ဒါရိုက်တာများသည် အစည်းအဝေးတက်ရောက်ဆွေးနွေးသူများအားလုံး ကြားသိနိုင်သော၊ ကြားသိ စေနိုင်လောက်သော ညီလာခံတယ်လီဖုန်းဖြစ်စေ၊ ဗီဒီရိုပြသမှုစနစ်ညီလာခံတယ်လီဖုန်းဖြစ်စေ၊ အလားတူဆက်သွယ်ရေးကိရိယာဖြစ်စေ အစရှိသည့်နည်းလမ်းများဖြင့် (လူကိုယ်တိုင်တက်ရောက်ရန် မလိုသည့်) အဖွဲ့အစည်းအဝေးကျင်းပရာတစ်ခုခုတွင် တက်ရောက်ဆွေးနွေးနိုင်ပြီး၊ ထိုကဲ့သို့သော အစည်းအဝေးများတွင် လူကိုယ်တိုင်တက်ရောက်ဆွေးနွေးသည့်အစည်းအဝေးကဲ့သို့မှတ်ယူရပါမည်။ အဆိုပါ အစည်းအဝေးများတွင်တက်ရောက်သည့်ဒါရိုက်တာများကို အစည်းအဝေးထမြောက်သည့် ဦးရေအဖြစ် ကောက်ယူမည်ဖြစ်ပြီး ကျင်းပနေစဉ်တွင်း ထမြောက်ဦးရေအတိုင်းဖြစ်ရမည့်အပြင် ဒါရိုက်တာ များမှသဘောတူဆုံးဖြတ်ချက်များအားလုံးသည်လည်း ဒါရိုက်တာများကိုယ်တိုင်တက်ရောက် ကျင်းပသည့်အစည်းအဝေးဆုံးဖြတ်ချက်များကဲ့သို့ပင် သက်ရောက်မှုရှိသည်ဟုမှတ်ယူရန်ဖြစ်ပါသည်။ အထက်တွင်ဖော်ပြထားသကဲ့သို့ တယ်လီဖုန်းညီလာခံ၊ ဗီဒီရိုပြသမှုစနစ်ညီလာခံတယ်လီဖုန်းနှင့် အလားတူဆက်သွယ်ရေးကိရိယာများဖြင့်ကျင်းပပြုလုပ်သည့်အစည်းအဝေးတစ်ခုသည် အစည်းအဝေး တက်ရောက်သည့်ဒါရိုက်တာများသဘောတူညီသည့်နေရာတွင်ကျင်းပပြုလုပ်သည်ဟုမှတ်ယူပြီး တက်ရောက်သည့်ဒါရိုက်တာများမှ အနည်းဆုံးတစ်ဦးသည် အစည်းအဝေးကျင်းပစဉ်ကာလအတွင်း အဆိုပါနေရာတွင်ရှိနေသည်ဟုယူဆရန်ဖြစ်ပါသည်။

## ဒါရိုက်တာများ၏လုပ်ပိုင်ခွင့်များနှင့်တာဝန်များ

၁၉။ ကုမ္ပဏီ၏လုပ်ငန်းနှင့်လုပ်ငန်းရေးရာများ၏ထိန်းချုပ်မှုနှင့်စီမံခန့်ခွဲမှုခြုံငုံခြင်းများအား အဖွဲ့အတွင်း အပ်နှင်းရန်ဖြစ်သည်။ အဖွဲ့သည် ကုမ္ပဏီ၏လုပ်ဆောင်မှုများနှင့် ပါဝင်ဆောင်ရွက်မှုအခွင့်အလမ်းများ အပါအဝင် ကုမ္ပဏီ၏အထွေထွေမူဝါဒများကိုသတ်မှတ်ဆုံးဖြတ်ရန်ဖြစ်သည်။

၂၀။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ ဇယား ''အေ'' ၏စည်းမျဉ်း ၇၁ အရ ဘက်လိုက်မှုမရှိဘဲ အထွေထွေလုပ်ပိုင်ခွင့်လွှဲအပ်ရန်ဖြစ်သော်လည်း အချိန်တိုင်းတွင်အဆိုပါစည်းမျဉ်းများနှင့်

အစုရှယ်ယာများ အစည်းအဝေးအတွက်သီးသန့်ကိစ္စရပ်များမှလွဲ၍ သို့မဟုတ် တစ်စုံတစ်ရာသော အခြားပုဂ္ဂိုလ်တစ်ဦး သို့မဟုတ် ထိုစည်းမျဉ်းအောက်ရှိ သို့မဟုတ် စပ်လျဉ်းသည့်ဥပဒေများအောက်ရှိ ၎င်းအားနောင်တွင် ရှင်းလင်းစွာကြေညာပြီး ဒါရိုက်တာများမှ အောက်ပါလုပ်ပိုင်ခွင့်များရှိမည်ဖြစ်၍ ထိုလုပ်ပိုင်ခွင့်များကိုပြောရလျှင် –

(၁) တစ်စုံတစ်ခုသောပစ္စည်းများကို ကုမ္ပဏီအတွက်တစ်နည်းနည်းဖြင့်ရယူမှု သို့မဟုတ် ဝယ်ယူရန် တည့်မတ်မှု သို့မဟုတ် အခွင့်အလမ်းမှာ ကုမ္ပဏီသည် ဈေးနှုန်းကဲ့သို့ရယူမှုကိုလွှဲအပ်ထားရန်နှင့် သူတို့ထင်မြင်ချက်နှင့်အံဝင်ရန်စည်းမျဉ်းများနှင့်သတ်မှတ်ချက်များကိုခြုံငုံလျှက်ရောင်းချ၊ ငှားရမ်း၊ စွန့်ပစ် သို့မဟုတ် တစ်နည်းအားဖြင့် အပေးအယူဖြင့် ပစ္စည်းတစ်ခုခုအား တည့်မတ်ခြင်း သို့မဟုတ် အခွင့်အလမ်းများကို သူတို့ထင်မြင်မှုနှင့်အံဝင်မည့် စည်းကမ်းများ၊ သတ်မှတ်ချက်များပေါ်တွင် ကုမ္ပဏီသည်ပြုလုပ်နိုင်ပါသည်။

(၂) စုစည်းရန် ငှားရမ်းခြင်း သို့မဟုတ် ငွေပမာဏပေးချေမှု သို့မဟုတ် လုပ်ကိုင်နည်းအတွင်း ငွေပမာဏများ လုံခြုံခြင်းနှင့် အားလုံးသော အလေးထားမှုအတွင်း သတ်မှတ်ချက်များနှင့်စည်းကမ်းချက်များပေါ်တွင် သူတို့ထင်မြင်အံဝင်မှုနှင့် ကုမ္ပဏီ၏ရင်းနှီးငွေများထုတ်ပေးခြင်းအနေဖြင့်ထုတ်ပေးသည့် အချက်အလက် များအားလုံးပေါ်တွင် သို့မဟုတ် ကုမ္ပဏီ၏ပစ္စည်းတစ်စုံတစ်ရာအစိတ်အပိုင်း (နှစ်ဖက်လက်ရှိနှင့် အနာဂတ်) အချိန်အတွက်ပြန်ခေါ်မရသည့်ရင်းနှီးမြှုပ်နှံမှုတို့ပါဝင်ပါသည်။

(၃) သူတို့၏သတ်မှတ်ဆုံးဖြတ်ချက်တွင် တစ်စုံတစ်ရာတည့်မှန်သည့်ရယူမှုအတွက်ပေးရန် သို့မဟုတ် ကုမ္ပဏီအားဝန်ဆောင်ခများဖြစ်ခဲ့မှု သို့မဟုတ် အားလုံး သို့မဟုတ် အစိတ်အပိုင်းအနေဖြင့် ငွေသား သို့မဟုတ် ရှယ်ယာများ၊ အနှောင်အတည်းများ သို့မဟုတ် ကုမ္ပဏီ၏အခြားသောလုံခြုံရေးများနှင့် ရှယ်ယာများကဲ့သို့ ထုတ်ပေးနိုင်ခဲ့ခြင်း သို့မဟုတ် အပြည့်အဝပေးခဲ့ခြင်း သို့မဟုတ် အကြွေးပမာဏ ကဲ့သို့ပေးခဲ့ခြင်းတို့အပေါ် သဘောတူတွင် အနှောင်အတည်းများ သို့မဟုတ် အခြားသောလုံခြုံမှုများကို အားလုံးသောအထူးတလည်အဘိုးအခပေါ်တွင် သို့မဟုတ် ကုမ္ပဏီမှတစ်စုံတစ်ရာပစ္စည်း၏ အစိတ်အပိုင်းတွင် ရင်းနှီးငွေကိုပြန်ခေါ်ယူမရခြင်း သို့မဟုတ် တောင်းခံခြင်းမပြုနိုင်ပါ။

(၄) တစ်စုံတစ်ခုသောပဋိညာဉ်၏လုံခြုံရန်ဖြည့်ဆည်းခြင်း သို့မဟုတ် ကုမ္ပဏီအနေဖြင့် ဝင်ရောက် စေ့စပ်ခြင်းသည် ပေါင်နှံခြင်း သို့မဟုတ် တောင်းခံခြင်းအားလုံးပေါ်တွင် သို့မဟုတ် ကုမ္ပဏီပစ္စည်း တစ်စုံတစ်ခုနှင့် ပြန်ခေါ်မရသည့်ရင်းနှီးမြှုပ်နှံငွေ သို့မဟုတ် ရှယ်ယာများပေါ်ပြန်ခေါ်ခြင်းဖြစ်ခဲ့လျှင် သို့မဟုတ် နည်းလမ်းတွင် သူတို့အနေဖြင့်သင့်လျော်သည်ဟုထင်ပါကပြုလုပ်နိုင်ပါသည်။

(၅) သူတို့သတ်မှတ်ဆုံးဖြတ်မှုတွင်ခန့်အပ်ရန်မှာ ရွှေ့ပြောင်းခြင်း သို့မဟုတ် မန်နေဂျာများ၊ အတွင်းရေးမှူး များ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် အမြဲတမ်းဝန်ထမ်းများ၊ ယာယီ သို့မဟုတ် အထူးဝန်ဆောင်မှုများရပ်ဆိုင်းခြင်းသည် သူတို့အနေဖြင့် ထင်မြင်အံဝင်မှုကို အခါအား လျော်စွာဆောင်ရွက်နိုင်ပြီး လိုအပ်သောလုံခြုံမှုတွင် သူတို့အံဝင်ထင်မြင်သည့်ပမာဏနှင့် ကုမ္ပဏီမှ အရာရှိများကိုတာဝန်လွှဲအပ်ပြီးအားလုံးကို သို့မဟုတ် သူတို့ကိုယ်စားအဆိုပါအရာတစ်စုံတစ်ရာကို ပြုလုပ်မည်ဖြစ်သည်။

(၆) ကုမ္ပဏီ၏ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ အုပ်ချုပ်မှုဒါရိုက်တာ၊ အထွေထွေမန်နေဂျာခန့်ထားရန်ဖြစ်သည်။

(၇) မည်သည့်အစုရှင်မဆို ၎င်းတို့၏အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့ကိုဖြစ်စေ စွန့်လွှတ်ခြင်းအတွက် သဘောတူညီသည့်စည်းကမ်းချက်များဖြင့်လက်ခံရန်။

(၈) ဤကုမ္ပဏီပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားတစ်နည်းနည်းကြောင့် မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စားလက်ခံထိန်းသိမ်းရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုခန့်ထားရန်နှင့် အဆိုပါယုံမှတ်အပ်နှံခြင်းများဆိုင်ရာ လိုအပ်သည့်စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) တရားဝင်ဆောင်ရွက်ချက်များအနေဖြင့် ဖွဲ့စည်းမှု၊ လမ်းပြမှု စွန့်ခွာမှု၏ခုခံခြင်း သို့မဟုတ် ကုမ္ပဏီကို ဆန့်ကျင်မှု သို့မဟုတ် ၎င်း၏အရာရှိများ သို့မဟုတ် တစ်နည်းအားဖြင့်ကုမ္ပဏီအရေးကိစ္စနှင့် ပတ်သက်သည်များနှင့်အလားတူစုပေါင်းထားခြင်းများနှင့် ပေးချေမှုအတွက်ခွင့်ပြုချိန် သို့မဟုတ် ကြွေးများပေးဆပ်ရန်စိတ်ကျေနပ်စေခြင်း သို့မဟုတ် ကုမ္ပဏီနှင့်ဆန့်ကျင်လျှက် တစ်စုံတစ်ရာတောင်းခံရန်နှင့်တောင်းဆိုရန်တို့ဖြစ်သည်။

(၁၀) ဤကုမ္ပဏီမှပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသောငွေတောင်းခံခြင်းများကို ငြင်းခုန်မှုဖြန်ဖြေရေး ခုံသမာဓိရုံးသို့ဖြေရှင်းရန်အပ်နှံခြင်းအပြင် ခုံသမာဓိရုံး၏ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီမှရရန်ရှိသည့်တောင်းဆိုချက်၊ တောင်းခံချက်များနှင့်ငွေကြေးများအတွက် ပြေစာများ ပြုလုပ်ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားနည်းဖြင့်စွန့်လွှတ်ခြင်းများပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံခြင်း၊ ကြွေးမဆပ်နိုင်ခြင်းကိစ္စရပ်များနှင့်ပတ်သက်၍ ကုမ္ပဏီကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိပြုစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ပဋိညာဉ်စာချုပ်များနှင့် အထောက်အထားများကို ကုမ္ပဏီကိုယ်စား လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများကသင့်လျော်သည်ဟုယူဆပါက သင့်လျော်သောနည်းလမ်းဖြင့် လတ်တလော အသုံးပြုရန်မလိုသေးသည့်ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်အပြင် အခါအားလျော်စွာမြှုပ်နှံထားငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလဲရန်။

(၁၅) ဤကုမ္ပဏီ၏အကျိုးအတွက်ငွေကြေးစိုက်ထုတ်ကုန်ကျခံထားသောဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ (လက်ရှိနှင့်နောင်တွင်ရှိမည့်) ပစ္စည်းများအား ဤကုမ္ပဏီအမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကိုသင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါပေါင်နှံခြင်းဆိုရာတွင် ရောင်းချနိုင်သည့်အာဏာနှင့်အခြားသဘောတူထားသည့် တရားဝင် သဘောတူညီချက်များ၊ ဥပဒေပြဋ္ဌာန်းချက်များပါဝင်ပါသည်။

(၁၆) ဤကုမ္ပဏီကခန့်ထားသောမည်သည့်အရာရှိ သို့မဟုတ်ပုဂ္ဂိုလ်ကိုမဆို အတိအကျဆောင်ရွက်ခဲ့သည့်

လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေအမြတ်အစွန်းမှခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ်များ ခွဲဝေပေးခြင်းတို့ကိုဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ်အစိတ်အပိုင်းအဖြစ်သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများနှင့်ဝန်ထမ်းများ၊ အစုရှင်များအတွက်ထုတ်ပြန်ထားသည့် စည်းမျဉ်းများ၊ သတ်မှတ်ချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာသတ်မှတ်ခြင်း၊ ပြင်ဆင်ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီလုပ်ငန်းအတွက် ဤကုမ္ပဏီအမည်ဖြင့်လည်းကောင်း၊ ဤကုမ္ပဏီကိုယ်စားလှယ်မှ လည်းကောင်း လိုအပ်သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ်ချုပ်ဆိုရန်၊ ဖျက်သိမ်းရန်နှင့်ပြင်ဆင်ရန်တို့အပြင် အဆိုပါဆောင်ရွက်ချက်စာချုပ်များနှင့်ကိစ္စရပ်များကိုဖြစ်စေ၊ ၎င်းတို့နှင့်စပ်လျဉ်းသည့်ကိစ္စများကိုဖြစ်စေ လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများမှသင့်လျော်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင်အကျိုးရှိစေရန်အတွက် မည်သည့်ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းတို့ထံမှဖြစ်စေ ငွေချေးယူရန်ဖြစ်သည်။

## အစုရှယ်ယာဝင်များ၏အစည်းအဝေးကြီးများ

၂၀။ နှစ်ပတ်လည်အစုရှယ်ယာဝင်များအစည်းအဝေးအား အနည်းဆုံးပုံမှန်ဘဏ္ဍာရေးနှစ်နှင့် အထွေထွေ နှစ်ပတ်လည်အစုရှယ်ယာဝင်များ အစည်းအဝေးမှ ၁၅ (တစ်ဆယ့်ငါး) လအတွင်းကျင်းပရမည်ဖြစ်ပြီး အဖွဲ့သည် ပုံမှန်ဖြည့်စွက်သောအစုရှယ်ယာဝင်များအစည်းအဝေးအား အချိန်မရွေး ခေါ်ယူနိုင်ပါသည်။

၂၁။ တစ်စုံတစ်ခုသောအစုရှယ်ယာဝင်အစည်းအဝေး၏ဥက္ကဋ္ဌအား HISG မှခန့်အပ်မည်ဖြစ်သည်။

၂၂။ အစုရှယ်ယာဝင်များအစည်းအဝေးတစ်စုံတစ်ရာအတွက်အကြောင်းကြားခြင်းသည် အစုရှယ်ယာဝင်များမှ တစ်နည်းတစ်လမ်းလိုအပ်သည့် ဥပဒေများအောက်မှလွဲ၍ အောက်ဖော်ပြပါနည်းလမ်းများအရ ဆန္ဒမဲပေးခွင့်ရှိသည့်အပေါ်တွင်လုပ်ဆောင်နိုင်ပြီး ထိုကိစ္စကိုကြိုတင်စီမံလျှက် အကြောင်းကြားခြင်းကို စွန့်လွှတ်ခြင်း သို့မဟုတ် အကြောင်းကြားကာလကိုအတိုချုံ့နိုင်ပြီး အစုရှယ်ယာဝင်များအားလုံး စာရေးသားသဘောတူမှုဖြင့်ဆန္ဒမဲပေးခွင့်ရှိပါသည်။ အကြောင်းကြားရန် ရက်၊ နေရာ၊ အချိန်၊ ဆွေးနွေးမည့်အစီအစဉ်နှင့် အစုရှယ်ယာဝင်များအစည်းအဝေးတွင်ဆောင်ရွက်ရမည့် အခြားလုပ်ငန်းများ အတွက်သတ်မှတ်ရပါမည်။

(က) အစုရှယ်ယာဝင်များအစည်းအဝေး၏ ဆွေးနွေးမည့်အကြောင်းအရာများတွင် သာမန် သို့မဟုတ် ဖြည့်စွက်ပုံမှန်ဆုံးဖြတ်ချက်များဖြစ်ပါက အစုရှယ်ယာဝင်များအစည်းအဝေးမတိုင်မီ ၁၄ (တစ်ဆယ့်လေး) ရက် သို့မဟုတ်

(ခ) အစုရှယ်ယာဝင်များအစည်းအဝေး၏ ဆွေးနွေးမည့်အကြောင်းအရာများတွင် သာမန် မဟုတ်သည့်ဆုံးဖြတ်ချက်များ သို့မဟုတ် အစုရှယ်ယာဝင်များ၏သီးသန့်ကိစ္စရပ်များဖြစ်ပါက ဖြည့်စွက်သာမန်အစုရှယ်ယာဝင်များအစည်းအဝေးမတိုင်မီ ၂၁ (နှစ်ဆယ့်တစ်) ရက်ဖြစ်သည်။

၂၄။ အစုရှယ်ရာဝင်များအစည်းအဝေးတစ်ခုခုတွင် အစည်းအဝေး၏ ဆန္ဒမဲဖြင့်ဆုံးဖြတ်ခြင်းကို ရွေးချယ်တင်မြှောက်မှုအရဆုံးဖြတ်နိုင်ပါသည်။ အစုရှယ်ရာဝင်အသီးသီးသည် (သို့မဟုတ် ၎င်း၏ကိုယ်စားလှယ်သို့မဟုတ် နီးစပ်သူ သို့မဟုတ် ရှေ့နေ) သည် အမြဲရှယ်ရာကိုင်ဆောင်မှုအတွက် ဆန္ဒမဲ ၁ (တစ်) ရမည်ဖြစ်သည်။ အစုရှယ်ရာဝင်များအစည်းအဝေးတွင် တင်မြှောက်ဆုံးဖြတ်မှုအတွက် အားလုံးသောကိစ္စရပ်များ၌ လိုအပ်ချက်မြင့်မားသည့်ဆန္ဒမဲလိုအပ်ချက်များဥပဒေအောက်မှလွဲ၍ သင်းဖွဲ့စည်းမျဉ်းများ သို့မဟုတ် သင်းဖွဲ့မှတ်တမ်းသည် လက်ရှိအစုရှယ်ရာဝင်များအနေဖြင့် သို့မဟုတ် ထိုအစည်းအဝေးတွင်နီးစပ်သူအနေဖြင့် ကိုယ်စားပြုဆန္ဒမဲပေးမှုမှအများစုအနေဖြင့်ဆုံးဖြတ်ရန် ဖြစ်သည်။

၂၅။ အစုရှယ်ရာဝင်များအစည်းအဝေးတစ်ခုခုတွင် လက်ရှိ အချိန်တွင်အစည်းအဝေးထမြောက်ရန် လိုအပ်သည့်ဦးရေမှလွဲ၍ အစုရှယ်ရာဝင်များအစည်းအဝေးမှ လုပ်ငန်းဆက်လုပ်အချိန်တွင် လုပ်ငန်းမဟုတ်သည်များကိုဆောင်ရွက်ရန်ဖြစ်သည်။ အစုရှယ်ရာဝင်များအစည်းအဝေးတွင် ထမြောက်ရန် လိုအပ်သည့်ဦးရေမှာ လက်ရှိအစုရှယ်ရာဝင်များ သို့မဟုတ် နီးစပ်သူဆိုရာတွင် HISG မှကိုယ်စားလှယ် အနည်းဆုံး (၁) ဦး၊ လက်ရှိ SEM မှကိုယ်စားလှယ် နီးစပ်သူအနေဖြင့် (၁) ဦးပါဝင်ရန်ဖြစ်သည်။ နီးစပ်သူမှလက်ရှိအစုရှယ်ရာဝင်များအစည်းအဝေးကိုတက်ရောက်သူမဟုတ်ပါက အဆိုပါအစည်းအဝေးသည် အစုရှယ်ရာဝင်များအကြားသဘောတူထားသည့်နည်းလမ်းမှလွဲ၍ အောက်ဖော်ပြပါရက်သတ္တပတ်၏အလားတူအချိန်၊ နေရာတွင် အလားတူရက်သို့ ရွှေ့ပြောင်းရန်ဖြစ်သည်။ ရွှေ့ပြောင်းခဲ့သည့်အစည်းအဝေးအတွက် နီးစပ်သူသည် အစုရှယ်ရာဝင်များကိုင်ဆောင်သည့် အစည်းအဝေးတွင် ဆန္ဒမဲပေးပိုင်ခွင့်အစုများ၏အများစုမှတစ်ခုဖြစ်ရပါမည်။

၂၆။ အစုရှယ်ရာဝင်များလက်မှတ်ထိုးပြီးရေးသားသည့်ဆုံးဖြတ်မှုသည် ရည်ရွယ်ချက်များနှင့်ဦးတည်ချက်များ အားလုံးအတွက်သက်ရောက်မှုရှိသည့် အစုရှယ်ရာဝင်များဆုံးဖြတ်ချက်ဖြစ်ပြီး ဖွဲ့စည်းမှုနှင့် စွဲကိုင်မှု အစည်းအဝေးခေါ်ယူသည့်အစုရှယ်ရာဝင်များအစည်းအဝေးမှကျော်ဖြတ်မှုဖြစ်သည်။

၂၇။ အစုရှယ်ရာဝင်များသည် အစည်းအဝေးတက်ရောက်ဆွေးနွေးသူများအားလုံး ကြားသိနိုင်သော၊ ကြားသိ စေနိုင်လောက်သော ညီလာခံတယ်လီဖုန်းဖြစ်စေ၊ ဗီဒီရိုပြသမှုစနစ်ညီလာခံ တယ်လီဖုန်းဖြစ်စေ၊ အလားတူဆက်သွယ်ရေးကိရိယာဖြစ်စေ အစရှိသည့်နည်းလမ်းများဖြင့် (လူကိုယ်တိုင်တက်ရောက်ရန်မလိုသည့်) အဖွဲ့အစည်းအဝေးကျင်းပရာတစ်ခုခုတွင် တက်ရောက်ဆွေးနွေးနိုင်ပြီး၊ ထိုကဲ့သို့သော အစည်းအဝေးများတွင် လူကိုယ်တိုင်တက်ရောက်ဆွေးနွေးသည့်အစည်းအဝေးကဲ့သို့မှတ်ယူရပါမည်။ အဆိုပါအစည်းအဝေးများတွင်တက်ရောက်သည့်အစုရှယ်ရာဝင်များကို အစည်းအဝေးထမြောက်သည့်ဦးရေအဖြစ် ကောက်ယူမည်ဖြစ်ပြီး ကျင်းပနေစဉ်တွင်း ထမြောက်ဦးရေအတိုင်းဖြစ်ရမည့်အပြင် အစုရှယ်ရာဝင်များမှသဘောတူဆုံးဖြတ်ချက်များအားလုံးသည်လည်း အစုရှယ်ရာဝင်များကိုယ်တိုင်တက်ရောက် ကျင်းပသည့်အစည်းအဝေးဆုံးဖြတ်ချက်များကဲ့သို့ပင် သက်ရောက်မှုရှိသည်ဟုမှတ်ယူရန်ဖြစ်ပါသည်။ အထက်တွင်ဖော်ပြထားသကဲ့သို့ တယ်လီဖုန်းညီလာခံ၊ ဗီဒီရိုပြသမှုစနစ်ညီလာခံတယ်လီဖုန်းနှင့် အလားတူဆက်သွယ်ရေးကိရိယာများဖြင့်ကျင်းပပြုလုပ်သည့်

အစည်းအဝေးတစ်ခုသည် အစည်းအဝေး တက်ရောက်သည့်အစုရှယ်ရာဝင်များသဘောတူညီသည့် နေရာတွင်ကျင်းပပြုလုပ်သည်ဟုမှတ်ယူပြီး တက်ရောက်သည့်အစုရှယ်ရာဝင်များမှ အနည်းဆုံး တစ်ဦးသည် အစည်းအဝေးကျင်းပစဉ်ကာလအတွင်း အဆိုပါနေရာတွင်ရှိနေသည်ဟုယူဆရန် ဖြစ်ပါသည်။

## အစုပေါ်အမြတ်များ

၂၈။ အစုပေါ်အမြတ်များကို ဖြန့်ချိကြေညာရန်နှင့် အသားတင်အမြတ် (အခွန်ဆောင်ခြင်း၊ အထူးတလည် အချက်များနှင့်အလေးအနက်ထားပြီးနောက်) ကုမ္ပဏီ၏ အစုရှယ်ရာဝင်များအစည်းအဝေးတစ်ခု အနေဖြင့် သတ်မှတ်ဆုံးဖြတ်ချက်အကြောင်းများ ကုမ္ပဏီအနေဖြင့် ဘဏ္ဍာနှစ်နှင့် ဖြန့်ဝေမှုအတွက် ရရှိနိုင်သည့်ဘဏ္ဍာရေးအခြေအနေကိုသင့်လျော်လိုက်ဖက်သည့်ဥပဒေနှင့်အညီအချိုးအစားအလိုက် အစုရှယ်ရာကိုင်ဆောင်သည့်အချိုးနှင့် အဖွဲ့ဝင်အသီးသီး၏အချိန်တွင်ပြသပြီး အမြဲထိုကြေညာသည့် ပမာဏကိုကြိုတင်စီမံလျှက် အဖွဲ့အစည်းအဝေးအနေဖြင့်ထောက်ခံခဲ့သည့်ပမာဏထက်မကျော်လွန် စေရန်ဖြစ်သည်။

## ရုံးဝန်ထမ်းများ

၂၉။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်ဆောင်ရွက်ရန်နှင့် အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ်ခန့်အပ်ပြီး အခြားအရည်အချင်းပြည့်မီသူများအားရုံးဝန်ထမ်းအဖြစ် ခန့်အပ် ရပါမည်။ လစာ၊ ခရီးသွားစရိတ်နှင့်အခြားအသုံးစရိတ်များကဲ့သို့အစွယ်အပွားအခကြေးငွေများကို ဒါရိုက်တာအဖွဲ့ကသတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို အစုရှယ်ရာဝင်များအစည်းအဝေးမှ အတည်ပြုရပါမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံးထိရောက်စွာလည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေမည်ဖြစ်ပြီး အုပ်ချုပ်မှုဒါရိုက်တာအား အချိန်ပြည့်တွင်စာရင်းစွဲကိုင်ရန်အမြဲအလေးထားရ ပါမည်။

## ငွေစာရင်းများ

၃၀။ ဒါရိုက်တာများသည် ငွေစာရင်းစာအုပ်များကိုအလေးထားပြီးသီးခြားသိမ်းဆည်းထားရန် အကြောင်းတို့မှာ –

(၁) ကုမ္ပဏီအနေဖြင့် ရငွေ၊ သုံးငွေများ၏ပမာဏနှင့် အသုံးစရိတ်များနှင့်လက်ခံခြင်းရယူသည့် နေရာ အကြောင်းကိစ္စရပ်များ

(၂) ကုမ္ပဏီမှအားလုံးသောကုန်ပစ္စည်းများဝယ်ယူခြင်းနှင့်ရောင်းချခြင်း

(၃) ကုမ္ပဏီမှရရန်နှင့်ပေးရန်များအားလုံးတို့ဖြစ်သည်။

၃၁။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီမှတ်ပုံတင်ထားသည့်လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာများမှ သင့်လျော်သည်ဟုထင်မြင်ယူဆသောအခြားနေရာတို့တွင်သိမ်းဆည်းထားရန်နှင့် ရုံးချိန်အတွင်း ဒါရိုက်တာများစစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၃၂။ ကုမ္ပဏီ၏စာရင်းစစ် (''စာရင်းစစ်'') သည် မြန်မာနိုင်ငံတွင်မှတ်ပုံတင်ပြီး (ပုဂ္ဂလိက သို့မဟုတ် ခိုင်မာသည့်စာရင်းစစ်အဖွဲ့) ပြည်သူ့စာရင်းစစ်လက်မှတ်ရတစ်ဦးဖြစ်ရမည်ဖြစ်ပြီး HISG အနေဖြင့်

အစုရှယ်ယာဝင်များအစည်းအဝေးတွင်တင်သွင်းလျှက် ခန့်အပ်ထားရမည်ဖြစ်သည်။ စာရင်းစစ်အား တစ်စုံတစ်ရာပြောင်းလဲရန် သို့မဟုတ် အစားထိုးရန်အတွက် အစုရှယ်ယာဝင်များအစည်းအဝေးတွင် သဘောတူထားမှုနှင့် HISG အနေဖြင့် အခါအားလျော်စွာ ဆုံးဖြတ်နိုင်ပြီး အခြားမည်သူမျှ ပြောင်းလဲခြင်း သို့မဟုတ် အစားထိုးခြင်းကို အကြောင်းရင်းခံမှလွဲ၍မပြုလုပ်နိုင်ပါ။

**နို့တစ်စာ (အကြောင်းကြားစာ)**

၃၃။ ကုမ္ပဏီအနေဖြင့် အဖွဲ့ဝင်တစ်စုံတစ်ဦးသို့ အကြောင်းကြားစာကို ပုဂ္ဂိုလ်ရေးအရ သို့မဟုတ် စာတိုက်မှကြိုတင်ပြင်ဆင်လျှက် မှတ်ပုံတင်လိပ်စာအတိုင်းပေးပို့နိုင်ပါသည်။

**စည်းတံဆိပ်**

၃၄။ ဒါရိုက်တာများသည် စည်းတံဆိပ်ကိုလုံခြုံစွာထိန်းသိမ်းထားရန်စီမံဆောင်ရွက်ရမည်။ ထိုစည်းတံဆိပ်ကို ဒါရိုက်တာများမှကြိုတင်လွှဲအပ်ထားသည့်ခွင့်ပြုချက်မှလွဲ၍ အနည်းဆုံးဒါရိုက်တာတစ်ဦးရှေ့တွင်မှ တစ်ပါး မည်သည့်အခါတွင်မျှမသုံးစွဲရပါ။ တံဆိပ်ရိုက်နှိပ်ထားသောစာရွက်စာတမ်းများတိုင်းတွင် အဆိုပါဒါရိုက်တာမှ လက်မှတ်ရေးထိုးရပါမည်။

**နစ်နာဆုံးရှုံးမှုအတွက်ပေးသည့်လျော်ကြေးငွေ**

၃၅။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၆ (၇) တွင်ဖော်ပြပါရှိသည့်ပြဋ္ဌာန်းချက်များ၊ လက်ရှိ တရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ ကုမ္ပဏီဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးအနေဖြင့် မိမိ၏တာဝန်ဝတ္တရားများကိုဆောင်ရွက်ရာတွင်ဖြစ်စေ၊ ထိုတာဝန်ဝတ္တရားများနှင့်စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးရငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီမှလျော်ကြေးကိုရထိုက်ခွင့်ရှိစရမည်။

**ဖျက်သိမ်းခြင်း**

၃၆။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေတွင်ပါဝင်ခဲ့သည့်ကြိုတင်စီမံထားသည့်အကြောင်းအရာများနှင့် ပြဋ္ဌာန်းဥပဒေအရ အနည်းငယ်ပြင်ဆင်ပြောင်းလဲထားသည့်စည်းမျဉ်းများအတိုင်း အထွေထွေ အစည်းအဝေး၏ သတ်မှတ်ဆုံးဖြတ်ချက်များအရစိတ်ဆန္ဒအတိုင်း ကုမ္ပဏီအား ချက်ချင်းဖျက်သိမ်း နိုင်ပါသည်။

ကျွန်ုပ်တို့၏အချို့သောပုဂ္ဂိုလ်များ အမည်၊ နိုင်ငံသား၊ နေရပ်လိပ်စာများနှင့် ထည့်ဝင်ငွေများ အားအောက်တွင်ဖော်ပြထားပြီး ကျွန်ုပ်တို့အသီးသီးသည် ဤသင်းဖွဲ့မှတ်တမ်းအရကုမ္ပဏီတစ်ခု ဖွဲ့စည်းရန်လိုလားသည့်အတွက် ကျွန်ုပ်တို့အမည်များနှင့်ယှဉ်တွဲဖော်ပြပါအတိုင်း အစုရှယ်ယာများအား ကုမ္ပဏီ၏မတည်ရင်းနှီးငွေအဖြစ်ထည့်ဝင်ရယူကြရန် အလေးအနက်သဘောတူညီကြပါသည်။

| စဉ် | အစုရှယ်ယာထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသားမှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဟီတာချီစက်မှုလုပ်ငန်းပစ္စည်းကိရိယာ စင်္ကာပူ Pte.Ltd<br>နေရပ်။ 7 Tampines Grande,<br># 08 -01, Hitachi Quare,<br>စင်္ကာပူနိုင်ငံ။<br>Represented by Yutaka Araya<br>Address: 3-1-30, Nishiozumi,<br>Nerima-ku, Tokyo, 178-0065, Japan | စင်္ကာပူတွင် တရားဝင် ပေါင်းစည်းထားသည်<br>TK 3725833 | ၃၀ | |
| ၂။ | စိုးလျှပ်စစ်နှင့်စက်ကိရိယာကုမ္ပဏီ လီမိတက်<br>အမှတ်(၁)၊ အောင်ချမ်းသာ အိမ်ယာ၊ အရှေ့ရွှေဂုံတိုင်လမ်း၊ ဗဟန်းမြို့နယ်၊ ရန်ကုန်၊ မြန်မာနိုင်ငံ။<br>ဦးကျော်မင်းထွန်းမှ ကိုယ်စားပြုသည်။<br>အမှတ်(၅၈) ဖိုးစိန်လမ်း။<br>နတ်မောက်ရပ်ကွက်၊ တာမွေမြို့နယ်<br>ရန်ကုန်၊ မြန်မာနိုင်ငံ။ | မြန်မာနိုင်ငံတွင် တရားဝင် ပေါင်းစည်းထားသည်<br>၁၂/ဗဟန(နိုင်)၀၂၄၅၂၄ | ၇၀ | |

ရန်ကုန်မြို့။ ၂၀၁၅ ခုနှစ်၊ လ ( ) ရက်။

ကျွန်ုပ်ရှေ့တွင် အထက်ပါပုဂ္ဂိုလ်များမှ သူတို့၏လက်မှတ်များရေးထိုးခဲ့သည်မှာ မှန်ကန်ပါသည်။

## FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**(Myanmar Companies Act, See Section 87)**

Name of Company : Hitachi Soe Electric and Machinery Co., Ltd.

Presented by : Daw Myo Myo Khine Director

| | The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Soe Tint | Myanmar 12/ Ba Ha Na (Naing) 044283 | No. 58, Phoe Sein Street, Natmauk Quarter, Tamwe Township, Yangon Region, The Republic of the Union of Myanmar. | Businessman | Director |
| 2. | U Kyaw Min Htun | Myanmar 12/ Ba Ha Na (Naing) 024524 | No. 58, Phoe Sein Street, Natmauk Quarter, Tamwe Township, Yangon Region, The Republic of the Union of Myanmar. | Businessman | Director |
| 3. | Daw Myo Myo Khine | Myanmar 12/ Ba Ha Na (Naing) 077225 | No. 58, Phoe Sein Street, Natmauk Quarter, Tamwe Township, Yangon Region, The Republic of the Union of Myanmar. | Businesswoman | Director |
| 4. | Mr. Katsutoshi Inagaki | Japanese P.P No. TH 7372466 | Niigata-Ken, Niikata-Shi, Chyuo-ku, Kamitokoro 1-5-8, Sam Kamitokoro, Japan. | Businessman | Director |

NOTE :

(1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ......................................" and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry

Signature ................................

Dated this ...........................

Designation ......Daw Myo Myo Khine Director.............

# FORM XXVI

## PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

**(Myanmar Companies Act, See Section 87)**

Name of Company : Hitachi Soe Electric and Machinery Co., Ltd.

Presented by : Daw Myo Myo Khine<br>Director

| The Present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 5. Mr. Takeshi Miyamoto | Japanese P.P No. TZ 0675243 | 39 Oxley Rise, #07-26, Singapore 238713. | Businessman | Director |
| 6. Mr. Takahisa Minegishi | Japanese P.P No. TR 4062866 | 3050-4, Nakajo, Tainai-Shi, Nigata-ken, 959-2629 Japan. | Businessman | Director |
| 7. Mr. Yutaka Niikura | Japanese P.P No. TK 0709635 | 4-25-18-502, Nishiikebukuro, Toshima-ku, Tokyo, 171-0021 Japan. | Businessman | Director |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ......................................" and by writing against any former Director's name the word "dead" " resigned" or as the case may be giving the date of change against the entry

Signature ..........................................

Dated this ..................................

Designation ....Daw Myo Myo Khine<br>Director......................